

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်



## ခွင့် ပြု မိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ - ......၇၃၁...... / ၂၀၁၀ ။ ၂၀၁၀ ခုနှစ်၊ ဖေဖော်ဝါရီ လ ၂ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ...... ဒေါ်ဝင်းသန္တာစန်း

(ခ) အဘအမည် ...... ဦးဖိုးစန်း

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ...... ၁၂ /ဥကတ (နိုင်) ၁၃၅၉၂၃

(ဃ) နေရပ်လိပ်စာ ...... အမှတ် (၂၆၆)၊ ရွှေသရဖီလမ်း၊(၄၁)ရပ်ကွက်၊ ဒဂုံမြို့သစ် (မြောက်ပိုင်း) မြို့နယ်၊ ရန်ကုန်မြို့။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း ...... သာလွန် အထည်ချုပ် ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် ( Excel Garment Manufacturing Co., Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ...... CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ (များ) ...... မြေကွက်အမှတ်(၂၈-ဃ)၊ မြေတိုင်းရပ်ကွက်အမှတ်၊ (၅၃၈-က)၊ အမှတ်(၄)အဝေးပြေးလမ်းမကြီး၊ရွှေပြည်သာမြို့နယ်၊ ရန်ကုန်မြို့။

(ဇ) မတည်ငွေရင်းပမာဏ (ကျပ်) ...... ၁၆၁.၃၇၅(သန်း) (ကျပ် တစ်ရာ ခြောက်ဆယ့်တစ်သန်း၊သုံးသိန်း၊ ခုနစ်သောင်း၊ ငါးထောင်တိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

လျှို့ဝှက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**

**အမိန့်ကြော်ငြာစာအမှတ်၊ ၆ /၂၀၁၀(မနသ)**

ရန်ကုန်မြို့ ၊ ၁၃၇၁ခုနှစ် ၊တပို့တွဲ လပြည့်ကျော် ၄ ရက်

(၂၀၁၀ခုနှစ်၊ ဖေဖော်ဝါရီ လ ၂ ရက်)

၁။ မြန်မာကုမ္ပဏီဖြစ်သော သာလွန် အထည်ချုပ် ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် ( Excel Garment Manufacturing Co., Ltd.) သည် ရန်ကုန်မြို့တော် စည်ပင်သာယာရေး ကော်မတီမှ ဦးမြင့်ဒွေးအမည်ဖြင့် အသုံးပြုခွင့်ရရှိထားသော မြေကွက်အမှတ် (၂၈-ဃ)၊ မြေတိုင်းရပ်ကွက်အမှတ် (၅၃၈-က)၊ အမှတ် (၄) အဝေးပြေးလမ်းမကြီး၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်မြို့ ရှိ မြေ (၂.၉၀၈) ဧက (၁၂၆၇၂ စတုရန်းပေ) နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦများအား ငှားရမ်း၍ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသား များ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား (၁-၁၂-၂၀၀၉) နေ့တွင်ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှု ကော်မရှင် ၏ (၄၂/၂၀၀၉) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ကော်မရှင်မှ စိစစ်ခဲ့ပြီး (၃၀-၁၂-၂၀၀၉) နေ့တွင် ကျင်းပသော ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၄၄/၂၀၀၉) အစည်းအဝေးသို့ ဆက်လက် တင်ပြခဲ့ပါသည်။ အဆိုပါ အစည်းအဝေးမှ သဘောတူညီချက် အရ (၂၁-၁-၂၀၁၀) နေ့တွင် ကျင်းပ ပြုလုပ်သော ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၃/၂၀၁၀) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်း ထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျှက် သာလွန် အထည်ချုပ် ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် ( Excel Garment Manufacturing Co., Ltd.) အား CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ- ၇၃၁/ ၂၀၁၀ ကို ထုတ်ပေးလိုက်သည်။

၂။ သာလွန် အထည်ချုပ် ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် ( Excel Garment Manufacturing Co., Ltd.) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ထုတ်လုပ်မှု လုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း(၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ပြုသည်။ ဥပဒေပုဒ်မ ၁၃ မှ လုပ်ငန်းနှင့် သက်ဆိုင်သည့် အခွန် ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ ခံစားလိုပါက ဤကော်မရှင်သို့ လျှောက်ထားနိုင် သည်။

၃။ သာလွန် အထည်ချုပ် ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် ( Excel Garment Manufacturing Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် မူလ အဆိုပြုလွှာ ၌ ဖော်ပြထားသည့် ထုတ်လုပ်မှုနှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက်များ ကို အနိမ့်ဆုံး ရည်မှန်းချက်များ အဖြစ် ထားရှိ ဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၄။ သာလွန် အထည်ချုပ် ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် ( Excel Garment Manufacturing Co., Ltd.) သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိ ရမည်။

၅။ သာလွန် အထည်ချုပ် ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် ( Excel Garment Manufacturing Co., Ltd.) သည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ နှင့်အညီ ကုမ္ပဏီ အား မှတ်ပုံတင်ပြီးသည့်အခါ အောက်ဖော်ပြပါ စာရွက်စာတမ်း (၅)စောင်စီ ကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့တင်ပြရမည်။

(က) ကုမ္ပဏီ မှတ်ပုံတင် လက်မှတ် (Certificate of Incorporation)

(ခ) ကုမ္ပဏီများညွှန်ကြားမှု ဌာနက အတည်ပြုပြီးဖြစ်သည့် ကုမ္ပဏီ သင်းဖွဲ့မှတ်တမ်း နှင့် သင်းဖွဲ့စည်းမျဉ်းများ (Memorandum and Articles of Association)

၆။ အဆိုပြု လုပ်ငန်းကို ဆောင်ရွက်နိုင်ရန် အတွက် မြေနှင့် အဆောက်အဦ အငှားချထားသူ ဦးမြင့်ဆွေ နှင့် အငှားချထားခြင်း ခံရသူ ဒေါ်ဝင်းသန္တာစန်း [သာလွန် အထည်ချုပ် ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် ( Excel Garment Manufacturing Co., Ltd.)] တို့ချုပ်ဆိုမည့် မြေ နှင့် အဆောက်အဦ ငှားရမ်းခြင်း သဘောတူ စာချုပ်ကို လက်မှတ်ရေးထိုးပြီးသည့်အခါ ယင်းသဘောတူ စာချုပ်မိတ္တူ(၅)စောင် ကို ဤကော်မရှင် သို့ မပျက်မကွက် ပေးပို့တင်ပြရမည်။

၇။ အဆိုပြု လုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှု နှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရ မှ မြေယာနှင့် ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းသည့် စည်းကမ်းချက်များ ကို တိကျစွာ လိုက်နာ ဆောင်ရွက် ရမည်။

၈။ သာလွန် အထည်ချုပ် ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် ( Excel Garment Manufacturing Co., Ltd.) မှ နိုင်ငံခြားသား ကျွမ်းကျင် သူများ ငှားရမ်းခွင့် ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေ ဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ပါ သတ်မှတ်ချက်များနှင့် အညီ ဤကော်မရှင်သို့ သီးခြား တင်ပြ လျှောက်ထားရမည်။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် အတွက် ပြည်တွင်း အလုပ် သမားများ ခန့်ထားရာတွင် အလုပ်သမားဝန်ကြီးဌာန၊

အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။ လုပ်ငန်းခွင် သာယာရေး အတွက် အဆိုပြုချက်တွင် တင်ပြ ထားသည့် အတိုင်း စီစဥ် ဆောင်ရွက်ရ မည်။

၉။ သာလွန် အထည်ချုပ် ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် ( Excel Garment Manufacturing Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန် အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိ ပြုထားသည့်အတိုင်း စနစ်တကျ ထားရှိဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေကိုဤကော်မရှင်သို့ မပျက်မကွက် အစီရင် ခံရမည်။

၁၀။ သာလွန် အထည်ချုပ် ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် ( Excel Garment Manufacturing Co., Ltd.) သည် အဆိုပြုချက်တွင် ဝန်ခံကတိပြုထားသည့် အတိုင်း ပုဂ္ဂလိက စက်မှု လုပ်ငန်း ဥပဒေအရ ပြည်နယ်/ တိုင်း စက်မှု ကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင် ထားရှိ ဆောင်ရွက် ရမည်။

၁၁။ သာလွန် အထည်ချုပ် ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် ( Excel Garment Manufacturing Co., Ltd.) သည် ပူးတွဲပါ ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး(သုံး)လ အတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင် ခံရမည်။ ထို့အပြင် လုပ်ငန်း အကောင်အထည် ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၆)လတစ်ကြိမ် (ဧပြီ/အောက်တိုဘာ လများ) မပျက်မကွက် ပုံမှန် ပေးပို့ အစီရင်ခံရမည်။ အဆိုပြု လုပ်ငန်း၏ စီးပွားဖြစ်စတင် ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လ အတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံ ရမည်။

၁၂။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ် သည့် နေရပ်ဒေသ လိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာ နှင့် တယ်လီဖုန်း နံပါတ်) တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ မပျက်မကွက် တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၃။ သာလွန် အထည်ချုပ် ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် ( Excel Garment Manufacturing Co., Ltd.) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာန များမှ ချမှတ်ထားသော တည်ဆဲ စည်းမျဥ်း စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာမှု

မရှိကြောင်း စစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည် ရုပ်သိမ်းသည့်အထိ အရေးယူခြင်း ခံရမည်။

၁၄။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့ အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေး တွေ့ရှိလျှင် ပုဂ္ဂလိက စက်မှုလုပ်ငန်းမှတ်ပုံတင်ကို ပယ်ဖျက်ပြီး စက်ရုံ ပိတ်သိမ်းနိုင်ရေး အတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက် မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၅(င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက် စာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၁၅။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

(ဗိုလ်မှူးချုပ်မောင်မောင်သိမ်း)

ဥက္ကဋ္ဌ

စာအမှတ်၊ရကာ- ၆(က) /မ- ၁၀၄၂ /၂၀၁၀( ၁၇၀၁ )

ရက်စွဲ၊ ၂၀၁၀ ခုနှစ်၊ ဖေဖော်ဝါရီ လ ၂ ရက်။

ဖြန့်ဝေခြင်း-

၁။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ဥက္ကဋ္ဌရုံး။

၂။ နိုင်ငံတော်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ ရုံး။

၃။ အစိုးရ အဖွဲ့ရုံး။

၄။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ။

၅။ အမှတ်(၁) စက်မှု ဝန်ကြီးဌာန။

၆။ အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။

၇။ အလုပ်သမား ဝန်ကြီးဌာန။



Excel

၈။ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။

၉။ ဆက်သွယ်ရေး၊ စာတိုက်နှင့် ကြေးနန်း ဝန်ကြီးဌာန။

၁၀။ ဘဏ္ဍာရေးနှင့် အခွန် ဝန်ကြီးဌာန။

၁၁။ လူဝင်မှု ကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။

၁၂။ အမှတ်(၂) လျှပ်စစ် စွမ်းအား ဝန်ကြီးဌာန။

၁၃။ ပြည်ထဲရေးဝန်ကြီးဌာန။

၁၄။ ဥက္ကဋ္ဌ၊CMP လုပ်ငန်းများ ကြီးကြပ်ရေး ကော်မတီ။(အမှတ်(၁)စက်မှုဝန်ကြီးဌာန)

၁၅။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည် ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့။(ပို့ဆောင်ရေး ဝန်ကြီးဌာန)

၁၆။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။

၁၇။ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ။

၁၈။ ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာန။

၁၉။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အထည်အလိပ် လုပ်ငန်း။

၂၀။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။

၂၁။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန။

၂၂။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။

၂၃။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း။

၂၄။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။

၂၅။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန။

၂၆။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။

၂၇။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှု ကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန။

၂၈။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။

၂၉။ ဥက္ကဋ္ဌ၊ပြည်ထောင်စုမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်။

၃၀။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံ အထည်ချုပ် လုပ်ငန်းရှင်များ အသင်း၊ ရန်ကုန်။

၃၁။ အုပ်ချုပ်မှုဒါရိုက်တာ၊ သာလွန် အထည်ချုပ် ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် ( Excel Garment Manufacturing Co., Ltd.)